## American International Partners Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

Private International School(s)

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၈-၁-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့တင်ပြခြင်း | ၄/၂၀၁၉ (၂၁-၁-၂၀၁၉) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၆-၂-၂၀၁၉<br>၆-၂-၂၀၁၉ | <br><br>၁၉-၂-၂၀၁၉<br>၁၉-၃-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၉-၁-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၅/၂၀၁၉ (၅-၄-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၆၇) ရက်** | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည်　　American International Partners Limited

လုပ်ငန်းအမျိုးအစား Private International School(s)

PAT အကြိမ်/ ရက်စွဲ ၄/၂၀၁၉ (၂၁-၁-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | မတည်ငွေရင်းနှင့် စပ်လျဉ်း၍ ငွေကြေးအထောက်အထား တင်ပြရန်။ | ✔ | |
| ၂။ | လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ၃ နေရာအား မြေပုံဖြင့် ရေးဆွဲတင်ပြရန်။ | ✔ | |
| ၃။ | သင်ကြားမည့် သင်ရိုးညွှန်းတမ်းများနှင့် ပြည်ပတက္ကသိုလ်များ နှင့် ချိတ်ဆက်ထားသည့် အထောက်အထားများ တင်ပြရန်။ | ✔ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Limitedမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ International Private School(s) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုခွင့်ပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br>လုပ်ငန်းအမျိုးအစား | - American International Partners Limited<br>- American International Partners Limited<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Myanmar Strategic Holdings Ltd. (Singapore) ၁၀၀ %<br>- Private International School(s) |
| ၂။ | တည်နေရာ | - အမှတ်- (၂/ka)၊ မြေကွက်အမှတ်-A၂၊ B၂၊ G) တိုက်အမှတ် ၂၊ ရန်ကုန်-အင်းစိန် လမ်းမကြီး၊ အမှတ်(၉) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေနှင့်အဆောက်အအုံပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အအုံအရေအတွက်<br><br>မြေနှင့်အဆောက်အအုံ<br>ငှားရမ်းခ<br>အဆောက်အအုံအသုံးပြုခွင့်<br>သက်တမ်း | - Lucky One Co.,Ltd.<br>- ၀.၅၀၂ ဧက<br>- ၁ လုံး (၂,၀၀၀ စတုရန်းမီတာ)<br>- ကစားကွင်း (၁) ကွင်း (၁,၀၀၀ စတုရန်းမီတာ)<br>- အမေရိကန်ဒေါ်လာ ၄၈၀,၀၀၀<br><br>- ကနဦး ၅ နှစ် (၅ နှစ် ၁ ကြိမ် သက်တမ်းတိုး) |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - ၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ငွေသား<br>ပရိဘောဂ<br>ကျောင်းသုံးပစ္စည်း<br>မော်တော်ကား<br>**စုစုပေါင်း** | အမေရိကန်ဒေါ်လာ ၁.၀၀၀ သန်း<br>၀.၂၇၄<br>၀.၁၅၂<br>၀.၃၇၄<br>၀.၂၀၀<br>**၁.၀၀၀** |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | |

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်) |
|---|---|---|---|---|
| က | Pre-Kindergarten | ၁၁ | ၁၀ | ၉,၀၀၀ |
| ခ | Kindergarten 1 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| ဂ | Kindergarten 2 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| ဃ | Grade 1 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| င | Grade 2 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| စ | Grade 3 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| ဆ | Grade 4 | ၁၁ | - | - |
| ဇ | Grade 5 | ၁၁ | - | - |
| ဈ | Grade 6 | ၁၁ | - | - |
| ည | Grade 7 | ၁၁ | - | - |
| ဋ | Grade 8 | ၁၁ | - | - |
| ဌ | Grade 9 | ၁၁ | - | - |
| ဍ | Grade 10 | ၁၁ | - | - |
| ဎ | Grade 11 | ၁၁ | - | - |
| ဏ | Grade 12 | ၁၁ | - | - |

၈။ ဝန်ထမ်းခန့်ထားမှု

**သင်ကြားရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၁၁ | ၉ |
| အမြင့်ဆုံးလစာ | US$ ၆၀၀ | US$ ၅,၆၀၀ |
| အနိမ့်ဆုံးလစာ | | US$ ၂,၇၀၀ |

**စီမံခန့်ခွဲရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၂၆ | ၂ |
| အမြင့်ဆုံးလစာ | US$ ၄,၀၀၀ | US$ ၂,၅၀၀ |
| အနိမ့်ဆုံးလစာ | US$ ၁၅၀ | US$ ၁,၅၀၀ |

၉။ အခြားတင်ပြချက်

- ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် Orwell Consulting Partners Limited. အမည်ဖြင့် ၁၃-၁၂-၂၀၁၈ ရက်စွဲတွင် US$ ၁၅၀,၂၈၆.၅၀ ရှိကြောင်း တင်ပြထားပါသည်။
- ကုမ္ပဏီသည် မူလ Orwell Consulting Partners Limited အမည် မှ American International Partners Limited အမည်သို့ ပြောင်းလဲပြင်ဆင်ထားပါသည်။
- သင်ကြားမည့်သင်ရိုးညွှန်းတမ်းများ၊ ပေးအပ်မည့်သင်တန်းဆင်းလက်မှတ်များ၊ လုပ်ငန်းဆောင်ရွက်မည့်နေရာ အတွက် Layout Plan၊ အဆိုပြုလုပ်ငန်းကို ပတ်ဝန်းကျင်ရှိအိမ်များမှ ကန့်ကွက်ရန်မရှိကြောင်း သဘောတူညီချက်၊ အရက်သေစာမူးယစ် ဆေးဝါးသုံးစွဲမှုမရှိစေရေး ကတိပြုဝန်ခံချက်၊ ပညာရေးဆိုင်ရာဥပဒေများ လိုက်နာ

| | | |
|---|---|---|
| | | ဆောင်ရွက်မည့် ကတိပြုဝန်ခံချက်၊ ကျောင်းဆရာ/ဆရာမများ လုံလောက်ကြောင်းကတိဝန်ခံချက်၊ Corporate Social Responsibility (CSR) အစီအစဉ်များ၊ မီးဘေးလုံခြုံရေး အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- American International Partners Limited ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ မြေပိုင်ရှင်၏ ပိုင်ဆိုင်မှုအထောက်အထား၊ မြေပိုင်ရှင် Lucky One Co.,Ltd. နှင့် ကုမ္ပဏီတို့ချုပ်ဆို၏ထားသည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း) များအား တင်ပြထားပါသည်။<br>- မိခင်ကုမ္ပဏီဖြစ်သည့် Myanmar Strategic Holdings Ltd. ၏ Annual Report အားတင်ပြထားပါသည်။<br>- သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် နိုင်ငံတကာသင်ရိုးဖြင့် သင်ကြားမည့် ပုဂ္ဂလိက ကျောင်း ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေ ရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးဖြစ်ပါက သက်ဆိုင်ရာလုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။<br>- အမေရိကန်ဒေါ်လာ ၀.၃၇၄ သန်းတန်ဖိုးရှိ ပရိဘောဂပစ္စည်းများ နှင့် အမေရိကန်ဒေါ်လာ ၀.၂၀၀ သန်း တန်ဖိုးရှိ 2014 Micro Bus, 25 seater ၄ စီးအား ပြည်ပမှတင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍ တွင် ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများ ဇုန်(၃)တွင် ပါဝင်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၀၂၅/ ၂၀၁၉( ၂၂၃ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မတ် လ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Private International School(s) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ Myanmar Strategic Holdings Ltd. မှ ၁၀၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် American International Partners Limited တည်ထောင်ပြီး အမှတ်- (၂/ka)၊ မြေကွက်အမှတ်-(A1၊ B1၊ G)၊ တိုက်အမှတ် ၂၊ ရန်ကုန်-အင်းစိန် လမ်းမကြီး၊ အမှတ်(၉) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Private International School(s) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ American International Partners Limited ၏ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှု အထောက်အထား၊ အဆောက်အဦပိုင်ရှင် Lucky One Co.,Ltd. နှင့် ကုမ္ပဏီတို့ချုပ်ဆိုထားသည့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း) နှင့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ အဆောက်အဦငှားရမ်းသက်တမ်းကာလမှာ ကနဦး ၅နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၅ နှစ် ၁ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅ နှစ်ဖြစ်ပြီး ပြင်ဆင်မှုကာလမှာ ၂နှစ် ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၀၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အကြောင်းအရာ** | US $ (သန်း) |
|---|---|
| ငွေသား | ၀.၂၇၄ |
| ပရိဘောဂ | ၀.၁၅၂ |
| ကျောင်းသုံးပစ္စည်း | ၀.၃၇၄ |
| မော်တော်ကား | ၀.၂၀၀ |
| **စုစုပေါင်း** | ၁.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၁ ဦးနှင့် ပြည်ပဝန်ထမ်း ၉ ဦး ခန့်ထားမည်ဖြစ်ပြီး စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၆ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦးခန့်ထားမည်ဖြစ်ပါသည်။ သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၆၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ US$ ၅,၆၀၀ နှင့် အနိမ့်ဆုံးလစာမှာ US$ ၂,၇၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၂,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်) |
|---|---|---|---|---|
| (က) | Pre-Kindergarten | ၁၁ | ၁၀ | ၉,၀၀၀ |
| (ခ) | Kindergarten 1 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| (ဂ) | Kindergarten 2 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| (ဃ) | Grade 1 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| (င) | Grade 2 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| (စ) | Grade 3 | ၁၁ | ၁၀ | ၁၅,၀၀၀ |
| (ဆ) | Grade 4 | ၁၁ | - | - |
| (ဇ) | Grade 5 | ၁၁ | - | - |
| (ဈ) | Grade 6 | ၁၁ | - | - |
| (ည) | Grade 7 | ၁၁ | - | - |
| (ဋ) | Grade 8 | ၁၁ | - | - |
| (ဌ) | Grade 9 | ၁၁ | - | - |
| (ဍ) | Grade 10 | ၁၁ | - | - |
| (ဎ) | Grade 11 | ၁၁ | - | - |
| (ဏ) | Grade 12 | ၁၁ | - | - |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် မတ် လ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၉/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် ၅၅ အရ အမှတ်- (G၊ A-1၊ B-1) ၊ တိုက်အမှတ် ၂၊ ရန်ကုန်-အင်းစိန်လမ်းမကြီး၊ အမှတ်(၉) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Orwell Consulting Partners Limited အမည်ဖြင့် CB Bank ၌ ၁၃-၁၂-၂၀၁၈ ရက်စွဲဖြင့် (US$) ၁၅၀,၂၈၆.၅၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အမေရိကန်ဒေါ်လာ ၀.၃၇၄ သန်း တန်ဖိုးရှိ ပရိဘောဂပစ္စည်းများနှင့် အမေရိကန်ဒေါ်လာ ၀.၂၀၀ သန်း တန်ဖိုးရှိ 2014 Micro Bus, 25 seater ၄ စီးအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Limited မှ Private International School(s) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ-က



| ဝင်စာအမှတ် | Mu-1595 |
| --- | --- |
| ရက်စွဲ | 14.3.19 |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ် လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၂.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅(အ)/ခ - ၀၂၅ / ၂၀၁၉ (၁၅၁)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Limited မှ အမှတ် -(G၊ $A_1$ ၊$B_1$)၊ ရန်ကုန်-အင်းစိန်လမ်းမကြီး၊ ၉ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Private International School(s) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄.၃.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၉/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၅)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**
တိုင်းဒေသကြီးလူမှုရေးဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
American International Partners Limited
လက်ခံစာတွဲ
မျှောစာတွဲ

| ဝင်စာအမှတ် | M4-2502 |
| --- | --- |
| ရက်စွဲ | 25.2.2019 |

နောက်ဆက်တွဲ-ခ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

PT-0801
21.2.19

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၂၅၀/၂၀၁၉( ၃၇၇၉ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၅ (အ) / ခ - ၀၂၅ / ၂၀၁၉ (၁၅၂)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၉)ရပ်ကွက်၊ ရန်ကုန်-အင်းစိန်လမ်းမကြီး၊ အမှတ်-(G၊ $A_1$၊ $B_1$)တွင် Private International School (s) တည်ထောင်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့်လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံများနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား )၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန်နှင့် Private International School (s) သည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American International Partners Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၉)ရပ်ကွက်၊ ရန်ကုန်-အင်းစိန်လမ်းမကြီး၊ အမှတ်-(G၊ $A_1$၊ $B_1$)တွင် Private International School (s) တည်ထောင်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့် ပညာရေးဝန်ဆောင်မှုဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

( ဒေါက်တာစည်သူကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ/ မျှောစာတွဲ